လျှို့ဝှက်

၁၁၁

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၃၈ / ၁၄၈ /အဖရ (၄၇/ ၂၀၁၀ )။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ ၈ ရက်။

အ မှာ စာ

အကြောင်းအရာ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာနနှင့် သဘာဝစွမ်းအင်လှိုင်း ကုမ္ပဏီလီမိတက်တို့ အညာဖျားရေအား လျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လိုက်လျော ခွင့်များ၊ ဝင်ငွေခွန်ကင်းလွတ်ခွင့်၊ ကုန်သွယ်ခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အား ခွင့်ပြု ပါရန် တင်ပြခြင်း။

၁။ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ ၉ ရက်( ကြာသပတေး ) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၇/၂၀၁၀) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး ( ကိုယ်စား )
(အောင်လွင်ဦး)

ဝန်ကြီး
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၃၈။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီး ဌာနနှင့် သဘာဝစွမ်းအင်လှိုင်းကုမ္ပဏီလီမိတက်တို့ အညာဖျားရေအား လျှပ်စစ် စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက် ရာတွင်လိုက်လျောခွင့်များ၊ ဝင်ငွေခွန်ကင်းလွတ်ခွင့်၊ ကုန်သွယ်ခွန်ကင်းလွတ် ခွင့်နှင့် သက်သာခွင့် များ အား ခွင့်ပြု ပါရန် တင်ပြခြင်း။

အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်နေ့စွဲပါအမှာစာအမှတ်၊ ၁၅၈-လျှပ်စစ် ၁(၂)/၆၉၆၁/ ၂၀၁၀။ အမှာစာကို ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် ဆုံးဖြတ်ကြသည်။

ဆောင်ရွက်ရန်၊
အမှတ်(၁)လျှပ်စစ်။

ထိပ်တန်းလျှို့ဝှက်

လျှို့ဝှက်

# Natural Energy Wave Co.,Ltd.

Head Office : No.63(C), Pyay Road, 6 ½ mile, Hlaing Township, Yangon, Myanmar.

Tel : 01-703513, 01-538683

Fax : 95-01-540432 E-mail : delcowin@gmail.com


M-1696
22/10

စာအမှတ်၊ ၅၂/ဒယ်(လ်)ကို/ရေအား/၂၀၁၀

ရက်စွဲ ၊ ၂၀၁၀ခုနှစ်၊အောက်တိုဘာလ ၂၂ ရက်

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

**အကြောင်းအရာ။ အညာဖျားရေအားလျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၁၁၀၁/၂၀၁၀(၁၇၁၀၃)

၁။ အညာဖျားရေအားလျှပ်စစ် စီမံကိန်းကို B.O.T (တည်ဆောက်၊လုပ်ဆောင်၊လွှဲပြောင်းခြင်း) စနစ်ဖြင့် အကောင်အထည်ဖော် လုပ်ကိုင်ဆောင်ရွက်ရန် အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် ကျွန်တော်များ Delco Limited တို့(၃၁-၁၂-၂၀၀၉) ရက်နေ့တွင် နားလည်မှုစာချွန်လွှာကို လက်မှတ်ရေးထိုးခဲ့ပါသည်။ အဆိုပါနားလည်မှုစာချွန်လွှာအပိုဒ် ၃အရ Delco Limited အနေဖြင့် Natural Energy Wave Co., Ltd ကို အသစ်ဖွဲ့စည်းပြီး ဥပဒေနှင့်အညီ ဌာနဆိုင်ရာနှင့် B.O.T (တည်ဆောက်၊လုပ်ဆောင်၊လွှဲပြောင်းခြင်း) စာချုပ်ချုပ်ဆိုလုပ်ကိုင် ဆောင်ရွက်ရန် အဆိုပြုချက်ကိုတင်ပြခဲ့ပါသည်။

၂။ ထိုသို့တင်ပြချက်အပေါ် ရည်ညွှန်းချက်ပါစာဖြင့် ဖိတ်ကြားချက်အရ (၁၉-၁၀-၂၀၁၀) နေ့၌ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးခန်းမ နေပြည်တော်တွင် အစည်းအဝေးတက်ရောက်ပြီး ညှိနှိုင်းဆွေးနွေးမှုကို နာယူခဲ့ပါသည်။

၃။ အထက်ပါအစည်းအဝေးမှ လမ်းညွှန်ချက်များနှင့်အညီ ပြန်လည်ပြင်ဆင်ရေးဆွဲထားသော အဆိုပြုချက် (၁၅)စုံကို ရှင်းလင်းတင်ပြချက်များနှင့်အတူ ပူးတွဲလျက်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

WIN OO
Managing Director
Natural Energy Wave Co., Ltd.

**မိတ္တူကို**

ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန သို့ ပြန်လည်ပြင်ဆင်ရေးဆွဲထားသော အဆိုပြုချက်သုံးစုံကို ရှင်းလင်းချက်များနှင့် အတူပူးတွဲတင်ပြအပ်ပါသည်။

# NATURAL ENERGY WAVE Co.,Ltd.

Head Office : No.63(C), Pyay Road, 6 ½ mile, Hlaing Township, Yangon, Myanmar.
Tel : 01-703513, 01-538683
Fax : 95-01-540432 E-mail : delcowin@gmail.com


စာအမှတ် ၊ ၅၃ /ဒယ်(လ်)ကို/ရေအား/၂၀၁၀
ရက်စွဲ ၊ ၂၀၁၀ခုနှစ်၊အောက်တိုဘာလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အကြောင်းအရာ ။ B.O.T စနစ်ဖြင့်လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအပေါ် စိစစ်တွေ့ရှိချက်များအား ပြန်လည်ရှင်းလင်းတင်ပြခြင်း**

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်အတွင်း B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်သွားမည့် အညာဖျားရေအားလျှပ်စစ် စီမံကိန်းဆိုင်ရာအဆိုပြုချက်ကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ (၂၃-၉ -၂၀၁၀) ရက်နေ့တွင် တင်ပြခဲ့ပြီး ယင်းအဆိုပြုချက်အပေါ် ကနဦးစိစစ်တွေ့ရှိချက်အရ လိုအပ်ချက်များကို (၁၉-၁၀-၂၀၁၀) ရက်နေ့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှအစည်းအဝေးခေါ်ယူညှိနှိုင်းလျက် ပြင်ဆင်ပေးရန်မှာ ကြားခဲ့ပါသည်။

၂။ အထက်ဖော်ပြပါ ကနဦးစိစစ်တွေ့ရှိချက်များအရ လိုအပ်ချက်များကို အောက်ပါအတိုင်း ပြန်လည် ရှင်းလင်းတင်ပြအပ်ပါသည်-

| **အချက်အမှတ်** | **ရှင်းလင်းတင်ပြချက်** |
|---|---|
| (၁) | ၁၇.၁၂.၂၀၀၉ ရက်နေ့တွင် ကျင်းပသောပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၄၆/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်ကို ပူးတွဲတင်ပြပါသည်။ |
| (၂) | အချက်(က)(ခ)(ဂ) တို့အား သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ တာဝန်ယူတင်ပြပါမည်။ |
| (၃) | ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင် (နိုင်ငံသားစိစစ်ရေး ကဒ်ပြားမိတ္တူ) ပူးတွဲတင်ပြထားပါသည်။ |
| (၄) | ရင်းနှီးမြှုပ်နှံမှုအတွက် ညီနောင်ကုမ္ပဏီဖြစ်သော Delco Co Ltd ၏ B.O.D ဆုံးဖြတ်ချက်နှင့် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်များ ပူးတွဲတင်ပြထားပါသည်။ |
| (၅) | အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနနှင့် လက်မှတ်ရေးထိုးထားသော MOU မိတ္တူကို ပူးတွဲတင်ပြထားပါသည်။ Delco Ltd သည် MOU |

အရကုမ္ပဏီအသစ်အဖြစ် Natural Energy Wave Co., Ltd ကိုဖွဲ့စည်းပြီးကြောင်းနှင့် စီမံကိန်းကို ယင်းကုမ္ပဏီဖြင့် ဆက်လက်ဆောင်ရွက်မည်ဖြစ်ကြောင်း အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သက်ဆိုင်ရာဌာနများသို့အကြောင်းကြားသည့် စာမိတ္တူကိုတင်ပြထားပါသည်။

(၆) မနသ ပုံစံ(၁) နှင့်ပတ်သက်၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည် -

(၁) ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်းကို B.O.T စာချုပ် ချုပ်ဆိုပြီးပါက ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်ခြင်းဖြင့် သော်လည်းကောင်း၊ ချေးငွေ(ပေးရန်တာဝန်) တိုးမြှင့်ချေးယူခြင်းဖြင့်သော်လည်းကောင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၂) မနသ ပုံစံ(၁) အပိုဒ် ၈(က)(၃)တွင် (မြေ) စာသားပယ်ဖျက်ထားပြီးဖြစ်ပါသည်။

(၃) မနသ ပုံစံ(၁) အပိုဒ် ၉(ဇ)ပါ အဆောက်အအုံလိုအပ်ချက်ဆိုသည်မှာ Dam Infrastructure, Power House, Switch Yard နှင့် ဝန်ထမ်းများ နေအိမ်အဆောက်တို့ကိုဆိုလိုရင်းဖြစ်ပါသည်။

(၄) မနသ ပုံစံ(၁) အပိုဒ် ၈(က) ရင်းနှီးမြှုပ်နှံမှု ကိန်းဂဏန်းကွဲလွဲမှုကို ပြန်လည်ပြင်ဆင်ထားပြီးဖြစ်ပါသည်။

(၇) Exhibit -II(A) စိစစ်ပြင်ဆင်ပြီး ဖြစ်ပါသည်။
စီမံကိန်းအတွက် လိုအပ်သော စက်ပစ္စည်းနှင့် အရံပစ္စည်းများကို Performance Guarantee သဘောအနေဖြင့် Deferred Payment Agreement ဖြင့်သာ ဝယ်ယူသုံးစွဲသွားမည်ဖြစ်ရာ ချေးငွေအနေဖြင့် ရယူခြင်းမဟုတ်ပါ။

(၈) Draw Back Item များကို B.O.T စာချုပ်ချုပ်ဆိုပြီးသည့် အခါမှသာ ပြည်တွင်း/ပြည်ပ ကုမ္ပဏီများအား Tender ခေါ်ယူညှိနှိုင်းပြီး စာချုပ်ချုပ်ဆို လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

(၉) Exhibit II (B-3) ပါယာဉ်များကို လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်သည့်အခါတွင် အမှန်တကယ်လိုအပ်သည့်အတိုင်း အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန ထောက်ခံချက်ဖြင့် တန်ဘိုးများနှင့် တကွတင်ပြ တောင်းခံသွားမည်ဖြစ်ပါသည်။

(၁၀) ယခင်လုပ်ငန်း(၂)ခုမှ ထုတ်လုပ်သည့် လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်၏ မဟာဓါတ်အားလိုင်း အတွင်းအရောက်ပို့ ရောင်းချခြင်းသာဖြစ်ပြီး ယခုလုပ်ငန်းမှာ ဓါတ်အားသုံးစွဲသူထံ အရောက်ဖြန့်ဖြူးရောင်းချသည့်

၁၀၀% အပြည့်ဆောင်ရွက်ရခြင်းဖြစ်၍ ဓါတ်အားလျော့နည်းခြင်း (Line Loses)နှင့် လုပ်ငန်းအသုံးပြုမှုအတွက် ၃၀%ဖော်ပြ ထားခြင်းဖြစ်ပြီး ဒေသပေါက်ဈေးဖြင့်သာ ညှိနှိုင်းရောင်းချသွားမည် ဖြစ်ပါသည်။

(၁၁) ပြည်ပမှ ပညာရှင်း(၃)ဦးကို တည်ဆောက်ရေးကာလနှင့် စက်ရုံလည်ပတ်နေသည့်ကာလများတွင် အချိန်ပိုင်းအနေဖြင့်သာ ခေါ်ယူလုပ်ကိုင်သွားမည် ဖြစ်ပါသည်။

(၁၂) ရင်းနှီးမြှပ်နှံမည့်ဝင်ငွေတန်ဘိုးကို မနသ ပုံစံ ၈(က) ဖော်ပြချက်နှင့် တူညီရန် ပြင်ဆင်ပြီးဖြစ်ပါသည်။

(၁၃) တန်ဘိုးလျော့လျာထားငွေကို တွက်ချက်ရာတွင် Total Investment ကျပ်သန်း 3866+ (7.68 MUSD × 6) = ကျပ်သန်း 3912 အပေါ် Straight Line Method အရ 5% on Total Investment ဖြင့်သာတွက်ချက်ခြင်းဖြစ်ပါသည်။ ထို့ကြောင့် တစ်နှစ်လျှင်ကျပ်သန်း 195.62 ဖြင့် နှစ်၂၀အတွက် 3912.42 ဖြစ်ပါသည်။

(၁၄) စစ်ဆေးပြင်ဆင်ပြီးဖြစ်ပါသည်။

(၁၅) IRR တွက်ချက်မှုမှာ Net Cash Flow အပေါ် Excel နှင့် တွက်ခြင်းဖြစ်ပါသည်။

(၁၆) တည်ဆောက်ရေးကာလ (၃)နှစ်အတိုးများကို နှစ်ဝက်အတိုးဖြင့်သာ တွက်ချက်ထားပြီး Project Cost များတက်မလာအောင် ထိန်း၍တွက်ခြင်းသာဖြစ်ပါသည်။ ဒုတိယနှစ်ချေးငွေမှာ Typing Error သာဖြစ်၍ ပြင်ဆင်ပြီးဖြစ်ပါသည်။

(၁၇) ပြင်ဆင်ပြီးဖြစ်ပါသည်။

လေးစားစွာဖြင့်

(signature)

**မိတ္တူကို –**

ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

**DEVELOPERS ENTREPRENEURS LIAISON CONSTRUCTION ORGANIZERS LIMITED. (DELCO)**

No.150(B), New University Avenue Road, Bahan Township, Yangon.
Tel: 95-1-540432, 400534. Hp: 0951-47646.

## ဒါရိုက်တာအဖွဲ့အထူးအစည်းအဝေးကျင်းပခြင်းနှင့် ဆုံးဖြတ်ချက်မှတ်တမ်း

| | | |
|---|---|---|
| ဖိတ်ကြားသည့်နေ့ | ။ | ၁၈-၁၀-၂၀၁၀ |
| ကျင်းပသည့်နေ့ | ။ | ၂၁-၁၀-၂၀၁၀ |
| ကျင်းပသည့်အချိန် | ။ | နံနက် (၁၀း၀၀)နာရီ |
| ကျင်းပသည့်နေရာ | ။ | ကုမ္ပဏီရုံးခန်း |

အစည်းအဝေးတက်ရောက်သူများ

| | |
|---|---|
| ၁။ ဦးဝင်းဦး | အုပ်ချုပ်မှုဒါရိုက်တာ |
| ၂။ ဦးအောင်ခိုင် | ဒါရိုက်တာ |
| ၃။ ဦးဒိန်ယိန်း | ဒါရိုက်တာ |
| ၄။ ဒေါ်ခေါဝင်း | ဒါရိုက်တာ |

အထူးအစည်းအဝေးမှဆွေးနွေးဆုံးဖြတ်ချက်များ

အစည်းအဝေးတွင် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဦးဝင်းဦးမှ သဘာပတိအဖြစ် ဆောင်ရွက်ပါသည်။

အစည်းအဝေးဆုံးဖြတ်ချက်များ

Delco Group of Co., မှတစ်ခုဖြစ်သော DEVELOPERS ENTREPRENEURS LIASION CONSTRUCTION ORGANIZERS (DELCO) LTD. သည် ၅-၁-၂၀၁၀နေ့တွင် အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာနနှင့် ကန်ဘောက် သတ္တုတွင်းအား အကျိုးတူဖက်စပ်လုပ်ကိုင်ခြင်း စာချုပ်ချုပ်ဆိုခဲ့ပြီး၊ ထုတ်လုပ်ပြီးသော သတ္တုများအား နိုင်ငံခြားသို့တင်ပို့ ရောင်းချခြင်းဖြင့် နိုင်ငံခြားဝင်ငွေများ ရရှိနေပါသည်။

ထို့အတူ Delco Group of Co., မှတစ်ခုဖြစ်သော DELCO LTD. သည်လည်း ၃၁-၁၂-၂၀၀၉ နေ့တွင်အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် အညာဖျားရေအားလျှပ်စစ်စီမံကိန်း (တနင်္သာရီတိုင်း၊ထားဝယ်မြို့) အား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်လုပ်ကိုင်ဆောင်ရွက်ရန်အတွက် နားလည်မှုစာချွန်လွှာ M.O.U အားလက်မှတ်ထိုးခဲ့ကြပြီး၊ ယခုအခါ ပဋိညာဉ်စာချုပ်ချုပ်ဆိုရန် ပြင်ဆင်လျက်ရှိပါသည်။

သို့ဖြစ်ပါ၍ အညာဖျားရေအေးလျှပ်စစ် စီမံကိန်းအတွက် လိုအပ်လာမည် ဖြစ်သော စက်ပစ္စည်းများ၊ ယာဉ်ယန္တယားများအား နိုင်ငံခြားမှ မှာယူတင်သွင်းရာတွင် လိုအပ်လာနိုင်သော နိုင်ငံခြားငွေအား သတ္တုတင်ပို့ရောင်းချခြင်းမှ ရရှိသော နိုင်ငံခြားဝင်ငွေမှ အသုံးပြု သွားမည် ဖြစ်ကြောင်း ဒါရိုက်တာအားလုံးမှ သဘောတူဆုံးဖြတ်ကြပြီး အစည်းအဝေးကို နံနက် (၁၁း၀၀)နာရီတွင် အောင်မြင်စွာ ရုပ်သိမ်းလိုက်ပါသည်။

မှတ်တမ်းတင်သူ

ဝင်းမြင့်
မန်နေဂျာ(စီမံ)
ဒယ်(လ်)ကိုလ်မိတက်

အတည်ပြုသူ

U Win Oo
Managing Director
Developers Entrepreneurs Liaison Construction Organizers Limited. (DELCO)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၆၇/ ၁၄၈ /အဖရ ( ၄၆ / ၂၀၀၉ ) ။
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်။

အ မှာ စာ

အကြောင်းအရာ။ တနင်္သာရီတိုင်း၊ ထားဝယ်ခရိုင် အညာဖျားချောင်းပေါ်တွင် အကောင်အထည်ဖော် တည်ဆောက်မည့် အညာဖျားရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ် (Build, Operate and Transfer)ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက်ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် DELCO ကုမ္ပဏီ လီမိတက်တို့ လက်မှတ်ရေးထိုးကြမည့် နားလည်မှုစာချွန်လွှာအား လက်မှတ်ရေးထိုးခွင့်ပြုပါရန်ကိစ္စ။

၁။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၇ ရက် (ကြာသပတေး) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၆/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး ( ကိုယ်စား )
(အောင်လွင်ဦး)

ဝန်ကြီး
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၆၇။ တနင်္သာရီတိုင်း၊ထားဝယ်ခရိုင်အညာဖျားချောင်းပေါ်တွင် အကောင်အထည်ဖော်တည်ဆောက်မည့် အညာဖျားရေအားလျှပ်စစ်စီမံကိန်းအား B.O.Tစနစ် (Build, Operate and Transfer)ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေး ဦးစီးဌာနနှင့် DELCO ကုမ္ပဏီလီမိတက်တို့ လက်မှတ်ရေးထိုးကြမည့် နားလည်မှုစာချွန်လွှာအား လက်မှတ်ရေးထိုး ခွင့် ပြုပါရန်ကိစ္စ။

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ၁၀၂-လျှပ်စစ်၁(၂)/၅၄၆၆(ခ)/၂၀၀၉။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
အမှတ်(၁)လျှပ်စစ်။

# ပြည်ထောင်စုမြန်မာနိုင်ငံတော်

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

DELCO ကုမ္ပဏီလီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

တို့၏

အညာဖျား ရေအားလျှပ်စစ်စီမံကိန်း အတွက်

နားလည်မှုစာချွန်လွှာ

အညာဖျား ရေအားလျှပ်စစ်စီမံကိန်း ၊ တနင်္သာရီတိုင်း ၊

အတွက်

နားလည်မှုစာချွန်လွှာ

ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နေပြည်တော်၌ ၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ၊ ( ၃၁ )ရက်နေ့တွင် - ဦးကြီးစိုး ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ ရုံးအမှတ် (၃၈)၊ နေပြည်တော် ကိုယ်စားပြုသော မြန်မာနိုင်ငံ၏ ဥပဒေများအရ တရားဝင်အဖွဲ့အစည်းတစ်ခုဖြစ်သည့် ရေအားလျှပ်စစ်စီမံရေး ဦးစီးဌာန၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်

နှင့်

ဦးဝင်းဦး၊ အုပ်ချုပ်မှုဒါရိုက်တာ၊ အမှတ် - ၅ (ဒီ) ၊ သုရိန်ရိပ်မွန်အိမ်ယာ ၊ ဘုရင့်နောင်လမ်း ၊ လှိုင်မြို့နယ်၊ ရန်ကုန် ကိုယ်စားပြုသော မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများအရ တည်ထောင်ထားသော DELCO ကုမ္ပဏီလီမိတက်

တို့သည်

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသည် အညာဖျား ရေအား လျှပ်စစ်စီမံကိန်း (စီမံကိန်း) ကို ပုဂ္ဂလိကအဖွဲ့အစည်းတစ်ခုအား (Build, Operate and Transfer) B.O.T (တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းစနစ်) စနစ်ဖြင့် ဆောင်ရွက်စေရန် ရည်မှန်းချက်ဖြင့်လည်းကောင်း၊

DELCO ကုမ္ပဏီလီမိတက်အနေနှင့်လည်း မြန်မာနိုင်ငံအတွင်း B.O.T စနစ်ဖြင့် စံပြဆောင်ရွက် မည့် ရေအားလျှပ်စစ်စီမံကိန်းကို ပါဝင်ဆောင်ရွက်အကောင်အထည်ဖော်ရန် ဆန္ဒရှိသဖြင့် လည်းကောင်း၊

အောက်ပါအတိုင်း သဘောတူညီကြ၍ ဤနားလည်မှုစာချွန်လွှာအား လက်မှတ်ရေးထိုးကြပါသည်။

၁။ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနအနေနှင့် DELCO ကုမ္ပဏီလီမိတက်အား အညာဖျားချောင်းတွင် တည်ဆောက်မည့် အညာဖျားရေအားလျှပ်စစ်စီမံကိန်းအတွက် အောက်ဖော်ပြပါ လုပ်ငန်းအပါအဝင် လိုအပ်သော လုပ်ငန်းများ ဆောင်ရွက်ရန် ခွင့်ပြုပါသည် -

(က) ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနမှ ပြုစုထားသော ပဏာမစူးစမ်းလေ့လာမှု အစီရင်ခံစာကို သုံးသပ်လေ့လာရန်။

(ခ) စီမံကိန်းအတွက် အတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့ကို ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၏ အတည်ပြုချက်ဖြင့် ခန့်အပ်ရန်။

(ဂ) လိုအပ်သော စူးစမ်းလေ့လာမှုလုပ်ငန်းများ ပြုလုပ်ရန်။

(ဃ) အသေးစိတ်အင်ဂျင်နီယာပိုင်း လေ့လာမှုနှင့် ဆောက်လုပ်ရေးဒီဇိုင်းများကို ပုံစံရေးဆွဲ ထုတ်လုပ်ရန်။

(င) မြို့ပြလုပ်ငန်းများ၊ သံထည်လုပ်ငန်းများနှင့် လျှပ်စစ်/စက်မှုလုပ်ငန်းများ ဆောင်ရွက်ရန်။

(စ) ရေအားလျှပ်စစ်စက်ရုံတည်ဆောက်ပြီးပါက ထိန်းသိမ်းမောင်းနှင်ရန်။

(ဆ) လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုရန်နှင့် လုပ်ပိုင်ခွင့်ကာလ ကုန်ဆုံးပါက ဌာနသို့ လွှဲပြောင်းပေးအပ်ရန်။

၂။ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနအနေနှင့် စီမံကိန်းနှင့်ဆက်စပ်သည့် လိုအပ်သော အချက်အလက်၊ သတင်းနှင့် အစီရင်ခံစာများကို ပေးပို့ပေးပါမည်။ ထို့အပြင် စီမံကိန်းနှင့်ဆက်စပ်၍ သက်ဆိုင်ရာဥပဒေ၊ စည်းမျဉ်းများနှင့်အညီ မြေယာအသုံးချခွင့်ရရှိရေးကိစ္စများ၊ စီမံကိန်းဧရိယာအတွင်း လူ/စက်/ယာဉ်/ ယန္တရားများ ဝင်/ထွက်/သွားလာခွင့် ရရှိရေးကိစ္စများ၊ လုံခြုံရေးကိစ္စများနှင့် ဓာတ်အားဝယ်ယူမှုဆိုင်ရာ သဘောတူညီချက်ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့်ညှိနှိုင်း၍ ကူညီစီစဉ် ဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

၃။ DELCO ကုမ္ပဏီလီမိတက်အနေနှင့် စီမံကိန်းအချိန်မီပြီးစီးရေးအတွက် သီးခြားကုမ္ပဏီတစ်ခု ဖွဲ့စည်း၍ ဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် စီမံကိန်း၏ တိုးတက်မှုအစီရင်ခံစာကို အခါအားလျော်စွာ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ တင်ပြရမည်ဖြစ်ပြီး လိုအပ်ပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနမှ နည်းပညာဆိုင်ရာ ကိစ္စရပ်များအား ကူညီဆောင်ရွက်ပေးနိုင်ရေးအတွက် စီစဉ်ပေးရပါမည်။

၄။ ဤနားလည်မှုစာချွန်လွှာတွင် ပါဝင်သော စီမံကိန်းနှင့်ဆက်စပ်နေသော အချက်အလက်များနှင့် အသေးစိတ်များကို ဤစာချုပ်ပါအဖွဲ့အစည်းများမှ အများနှင့်မဆိုင်သောကိစ္စနှင့် လျှို့ဝှက်ကိစ္စတစ်ရပ် အနေဖြင့် လက်ခံထားရမည်ဖြစ်ပြီး ဤစာချုပ်ပါ အဖွဲ့အစည်းနှစ်ခုလုံး၏ စာဖြင့်ရေးသားသဘောတူညီမှု မပါဘဲနှင့် အခြားသော တတိယအဖွဲ့အစည်းတစ်ခုထံသို့ "စီမံကိန်း" နှင့်ပတ်သက်သည့် မည်သည့် အချက်အလက်ကိုမှ မပေါက်ကြားစေရပါ။

၅။ "စီမံကိန်း" ၏ ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာကို ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ ဤနားလည်မှုစာချွန်လွှာအား နှစ်ဖက်လက်မှတ်ရေးထိုးပြီးသည့် ( ၃၁.၁၂.၉၈ )ရက် နေ့မှ (၆)လ အတွင်း တင်ပြရမည်ဖြစ်ပါသည်။

၆။ အကယ်၍ DELCO ကုမ္ပဏီလီမိတက်အနေနှင့် နားလည်မှုစာချွန်လွှာကို လက်မှတ်ရေးထိုးပြီး (၁၂) လ အတွင်း "စီမံကိန်း"ကို အကောင်အထည်ဖော်ခြင်းမပြုလုပ်နိုင်ပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန အနေဖြင့် စီမံကိန်းကို ဆက်လက်အကောင်အထည်ဖော်ဆောင်ရွက်ရန် တတိယအဖွဲ့အစည်းတစ်ခုအား လွှဲအပ်ဆောင်ရွက်ခွင့်ရှိသည်။ တတိယအဖွဲ့အစည်းတစ်ခုအား လွှဲအပ်ပေးခဲ့သော် DELCO ကုမ္ပဏီ လီမိတက်အနေနှင့် နဂိုမူလက ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့် ပမာဏ အထိ တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်ခွင့်ရှိသည်။

၇။ နားလည်မှုစာချွန်လွှာကို လက်မှတ်ရေးထိုးပြီးသည့် နေ့ရက်မှစတင်၍ (၁၂) လအတွင်း DELCO ကုမ္ပဏီလီမိတက်အနေနှင့် စီမံကိန်းကို အကောင်အထည်ဖော်ခြင်း မပြုလုပ်နိုင်ပါက နားလည်မှုစာချွန်လွှာ သက်တမ်း ကုန်ဆုံးမည်ဖြစ်ပါသည်။

၈။ ဤနားလည်မှုစာချွန်လွှာတွင် ဖော်ပြပါဝင်ခြင်းမရှိသော အနေအထား/အခြေအနေများ ပေါ်ပေါက် ပါက နှစ်ဘက်အဖွဲ့အစည်းတို့အနေနှင့် တိုင်ပင်ဆွေးနွေး၍ စာချွန်လွှာပါအချက်အလက်များကို ပြင်ဆင် ရပါမည်။

၉။ ဤနားလည်မှုစာချွန်လွှာသည် စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ အကျိုးဝင်သက်ရောက် ပါမည်။

အောက်တွင်ဖော်ပြပါရှိသော သက်သေများ၏ရှေ့မှောက်တွင် နှစ်ဘက်သော အဖွဲ့အစည်းတို့သည် ၎င်းတို့နှင့်သက်ဆိုင်သော အဖွဲ့အစည်းများမှ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များအရ လက်မှတ်ရေးထိုး ကြပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၃၁ )ရက်နေ့တွင် လက်မှတ်ရေးထိုးပြီး စာချွန်လွှာကို လဲလှယ်ကြပါသည်။

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန(ကိုယ်စား)

လက်မှတ် -

အမည် - ဦးကြီးစိုး

ရာထူး - ညွှန်ကြားရေးမှူးချုပ်

DELCO ကုမ္ပဏီလီမိတက် (ကိုယ်စား)

လက်မှတ်

အမည် - ဦးဝင်းဦး

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

ကျွန်ုပ်တို့၏ ရှေ့မှောက်တွင်

လက်မှတ် -

အမည် - ဦးဘုန်းမြင့်

ရာထူး - ဒုတိယညွှန်ကြားရေးမှူးချုပ်

လက်မှတ် -

အမည် - ဦးဒိန်ယိန်း

ရာထူး - ဒါရိုက်တာ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၅၈ - လျှပ်စစ် ၁ (၂)/ ၁၉၆၆ / ၂၀၁၀

ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ်၊ မေလ ( ၆ ) ရက်

အကြောင်းအရာ။ **အညာဖျားရေအားလျှပ်စစ်စီမံကိန်းအတွက် သီးခြားကုမ္ပဏီသစ် ဖွဲ့စည်းပြီးဖြစ်ပါကြောင်း တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ DELCO Limited ၏ (၁၀.၃.၂၀၁၀) ရက်စွဲပါစာအမှတ်၊ ၂၁ - ၂၀၁၀/ ဒယ် (လ်) ကို/ ရေအား

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် DELCO Limited တို့သည် အညာဖျားရေအားလျှပ်စစ်စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် နားလည်မှုစာချွန်လွှာ (MOU) အား (၃၀.၁၂.၂၀၀၉) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ကြပါသည်။

၂။ နားလည်မှုစာချွန်လွှာ (MOU) ၏ စာမျက်နှာ(၂)၊ အပိုဒ်(၃) အရ အညာဖျားရေအားလျှပ်စစ်စီမံကိန်းကို သီးခြားကုမ္ပဏီတစ်ခုဖြစ်သော "သဘာဝစွမ်းအင်လှိုင်းကုမ္ပဏီလီမိတက်" (Natural Energy Wave Co., Ltd.) အမည်ဖြင့် ဖွဲ့စည်းဆောင်ရွက်နိုင်ရေးအတွက် ကုမ္ပဏီဖွဲ့စည်းခွင့်ကို ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့တင်ပြခဲ့ရာ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ကုမ္ပဏီများမှတ်ပုံတင်ရုံးမှ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ) ကို ထုတ်ပေးပြီးဖြစ်ပါကြောင်းနှင့် စီမံကိန်းလုပ်ငန်းများဆက်သွယ် ဆောင်ရွက်ရာတွင် "သဘာဝစွမ်းအင်လှိုင်းကုမ္ပဏီလီမိတက်" (Natural Energy Wave Co., Ltd.) အမည်ဖြင့် ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း **ရည်ညွှန်း**ပါစာဖြင့် တင်ပြလာခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ကုမ္ပဏီအမည်သစ်ဖြင့် ကုမ္ပဏီဖွဲ့စည်းခွင့် ခွင့်ပြုချက်ရရှိခြင်းအား သိရှိနိုင်ပါရန်နှင့် အညာဖျားရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆက်လက်ဆောင်ရွက်ရန်ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်တွင် "သဘာဝစွမ်းအင်လှိုင်းကုမ္ပဏီလီမိတက်" (Natural Energy Wave Co., Ltd.) အမည်ဖြင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အကြောင်းကြားပါသည်။

ပူးတွဲလျက် - ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ) မိတ္တူ

ဝန်ကြီး (

(ကြီးစိုး၊ ညွှန်ကြားရေးမှူးချုပ်)

၁။ <u>ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန</u>

၂။ <u>ရှေ့နေချုပ်ရုံး</u>

၃။ <u>အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန</u>
<u>နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန</u>

မိတ္တူ - ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

# DELCO LIMITED

No.5(D), THUREIN YEIK MON HOUSING, YWARMA CURVE, BAYINTNAUNG ROAD,
HLAING TOWNSHIP, YANGON, MYANMAR.
TEL : 95-1-700969, 703513
FAX : 95-1-535848
E-mail : delco@mptmail.net.mm


စာအမှတ် ၊ ၂၁ ...-၂၀၁၀/ဒယ်(လ်)ကို/ရေအား
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ မတ်လ ၁၀ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ ။ အညာဖျားရေအားလျှပ်စစ်စီမံကိန်းအတွက် ကုမ္ပဏီအသစ်ဖွဲ့စည်းပြီးကြောင်း တင်ပြခြင်း

ရည်ညွှန်းချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် DELCO Ltd. တို့ (၃၁.၁၂.၂၀၀၉) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သော နားလည်မှုစာချွန်လွှာ

၁။ တနင်္သာရီတိုင်း၊ ထားဝယ်ခရိုင်အတွင်းရှိ အညာဖျားရေအားလျှပ်စစ်စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ရည်ညွှန်းချက်ပါ နားလည်မှုစာချွန်လွှာကို လက်မှတ်ရေးထိုးခဲ့ပါသည်။ ယင်းအညာဖျားရေအားလျှပ်စစ်စီမံကိန်းကို တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့် နှစ်(၆၀)သက်တမ်းသတ်မှတ်၍ အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် ဤသို့ဆောင်ရွက်ရန်အတွက် ကုမ္ပဏီအသစ်ဖွဲ့စည်းတည်ထောင်ရန် အထက်ပါနားလည်မှုစာချွန်လွှာ၌ ဖော်ပြပါရှိပါသည်။

၂။ အဆိုပါ နားလည်မှုစာချွန်လွှာပါ သဘောတူညီချက်အရ အညာဖျားရေအားလျှပ်စစ်စီမံကိန်းကို အကောင်အထည်ဖော်ရန် ရည်ရွယ်၍ DELCO Ltd.သည် NATURAL ENERGY WAVE Co.,Ltd. အမည်ဖြင့် ကုမ္ပဏီအသစ်ဖွဲ့စည်းပြီးဖြစ်ပါကြောင်းနှင့် စီမံကိန်းအတွက်ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း (B.O.T) ပဋိညာဉ်စာချုပ်ကိုလည်း အသစ်ဖွဲ့စည်းပြီးသည့် NATURAL ENERGY WAVE Co.,Ltd.နှင့်ပင် လက်မှတ်ရေးထိုးချုပ်ဆို၍ စီမံကိန်းလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ) မိတ္တူကို ပူးတွဲလျက်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

WIN OO
Managing Director

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)

အမှတ် ......၁၇၇၄......... / ၂၀၀၉-၂၀၁၀

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ....သဘာဝ စွမ်းအင် လှိုင်း ကုမ္ပဏီ လီမိတက်.....

........................................ အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ..၂၀၁၀.. နှစ်၊ ....မတ်........ လ၊ ..၃...ရက်နေ့တွင် ယာယီမှတ်ပုံတင်ခွင့်

ပြုလိုက်သည်။

ခင်စိုး

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
**INDUSTRIAL, PRODUCTION**

THE GOVERNMENT OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION (TEMPORARY)

NO. ..........1774.........of 2009-2010

I hereby certify that ........NATURAL ENERGY WAVE COMPANY........ LIMITED........ is this day incorporated under the Myanmar Companies Act and that the company is Limited.

Temporarily given under my hand at Nay Pyi Taw this ........THIRD........ day of ......MARCH, TWO THOUSAND AND TEN......

**Khin Soe**
**Director General**
**Directorate of Investment and Company Administration**
Registrar of Joint Stock Companies
Companies Registration Office

စက်ရုံ အလုပ်ရုံ တည်ရှိရာအရပ်သည်
စက်မှုလက်မှုဇုံတွင် ဖြစ်စေရမည်၊
(သို့မဟုတ်) လူနေရပ်ကွက်နှင့် ဝေး၊
လွတ်ရှ အရပ်၌ ဖြစ်စေရမည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၇၇၄ / ၂၀၀၉-၂၀၁၀

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ သဘာဝစွမ်းအင်လှိုင်း ကုမ္ပဏီ လီမိတက်

အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၁၀ ခုနှစ် မတ် လ ၃ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

23/7/2010
(ထွန်းထွန်းနိုင်)
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL, PRODUCTION

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. 1774 of 2009-2010

I hereby certify that NATURAL ENERGY WAVE COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this THIRD day of MARCH, TWO THOUSAND AND TEN.

စက်ရုံ အလုပ်ရုံ တည်ရှိရာအရပ်သည်
စက်မှုလက်မှုဇုန်တွင် ဖြစ်စေရမည်။
(သို့မဟုတ်) လူနေရပ်ကွက်နှင့် ...
မှတ်ရာ အရပ်၌ ဖြစ်စေရမည်။

23/7/2010
(TUN TUN NAING)
DIRECTOR GENERAL
Directorate of Investment and Company Administration
Registrar of Joint Stock Companies
Companies Registration Office

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ)-၉၅-၆၇-၄၀၆၃၃၃

တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၀။

စာအမှတ်၊ ရက- ၆(က) / မ- ၁၁၀၁ / ၂၀၁၀(          )၊

ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ နိုဝင်ဘာလ    ရက်။

သို့

ဝန်ကြီးရုံး၊

အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ သဘာဝစွမ်းအင်လှိုင်း ကုမ္ပဏီလီမိတက် (Natural Energy Wave Co., Ltd.) မှ အညာဖျား ရေအား လျှပ်စစ် စီမံကိန်းအား BOT ( Build , Operate and Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ (၂၄-၉-၂၀၁၀) ရက်စွဲပါစာအမှတ်၊ ၁၅၈ - လျှပ်စစ် ၁(၂) / ၆၀၄၈ / ၂၀၁၀ ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်းကို (၂၈-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော ဤကော်မရှင် ၏ (၃၆/ ၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ သဘာဝစွမ်းအင်လှိုင်း ကုမ္ပဏီလီမိတက် (Natural Energy Wave Co., Ltd.) မှ အညာဖျား ရေအား လျှပ်စစ်စီမံကိန်းအား BOT(Build , Operate and Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ကော်မရှင်မှ ခွင့်ပြုပေးနိုင်သော BOT ကာလထက် ကျော်လွန်နေသော BOT လုပ်ငန်း သက်တမ်းကာလ (၆၀+(၅x၃)=၇၅နှစ်) ကိုလည်းကောင်း၊ ဝင်ငွေခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန်အား ပထမ (၃)နှစ် ကို ကင်းလွတ်ခွင့် နှင့် ယင်းကာလ ပြည့်မြောက် ပြီးနောက် အရင်းကြေကာလ မတိုင်မီ ကာလများအတွက် (၅၀ %)

သက်သာခွင့်များကို လည်းကောင်း၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုး[illegible] အဖွဲ့သို့ တင်ပြ၍ ခွင့်ပြုချက်ရယူရန်၊

(ခ) BOT စာချုပ်တွင် လုပ်ငန်းဆောင်ရွက်ရန် အသုံးပြုမည့် မြေဧရိယာ ဖော်ပြပေးပါရန်၊

(ဂ) ဌာနဆိုင်ရာ သဘောထားမှတ်ချက်များ နှင့်အညီ အမှတ်(၁)လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ ဆောင်ရွက်ထားရှိမှု အခြေအနေများကို ဖော်ပြပေးပါရန်၊

(ဃ) အထက်ပါ အချက်များ ဆောင်ရွက်ပြီးပါက ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှု ခံယူရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီးပါက ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး သို့ ဆက်လက်တင်ပြနိုင်ရန် အတွက် အဆိုပြုချက်(၂၇)စုံ ကို Adobe Acrobat Reader(Pdf)File ဖြင့် ထည့်သွင်းထားသော CDCopy နှင့်အတူ ဤကော်မရှင် သို့ ပေးပို့ပါရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန ။

(၂) သဘာဝစွမ်းအင်လှိုင်း ကုမ္ပဏီလီမိတက်

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

.၁၉.၁၀.၂၀၁၀

အဆိုပြုချက်အပေါ် ကနဦး စိစစ်တွေ့ရှိချက်အရ လိုအပ်ချက်များ

| | |
|---|---|
| ကုမ္ပဏီအမည် | သဘာဝ စွမ်းအင်လှိုင်းကုမ္ပဏီ လီမိတက် |
| ဆောင်ရွက်မည့်လုပ်ငန်း | BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| အဆိုပြုလွှာတင်ပြနေ့ | ၂၃-၉-၂၀၁၀ |

စိစစ်တွေ့ရှိချက်အရ အောက်ပါလိုအပ်ချက်များတွေ့ရှိ ရပါ၍ ပြင်ဆင် ပေးပါရန် အကြောင်းကြားပါသည်။

(၁) ရှေ့နေချုပ်ရုံးနှင့် စီမံ/စီးပွားဝန်ကြီးဌာနများ၏ သဘောထား ပြန်ကြားချက် အရ နိုင်ငံပိုင်စီးပွားရေး လုပ်ငန်းများ ဥပဒေ ပုဒ်မ ၃ နှင့် ဥပဒေ ပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့်ထုတ်ပြန်သော ခွင့်ပြုမိန့် တင်ပြပေးပါရန်၊

(၂) ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၁၀) (၃-၂-၂၀၁၀) အစည်းအဝေးမှ ရွှေစွမ်းအင်ကုမ္ပဏီလီမိတက်၏ သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်း နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက် (Gold Energy Co., Ltd.) မှ BOT စနစ် ဖြင့် သောက်ရေခပ်(၂) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလ အတွက် Exemption နှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှအစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။

(ခ) Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည် တင်ပြရန်၊

(ဂ) သို့ပါ၍ Exemption ကိစ္စများအား အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ တင်ပြ ခွင့်ပြုချက် ရယူပေးပါရန်၊

(၃) ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင်မိတ္တူ တင်ပြပေးပါရန်။

(၄) ရင်းနှီးမြှုပ်နှံမှုအတွက် ညီနောင်ကုမ္ပဏီ၏ နိုင်ငံခြားငွေ တင်ပြထားရာ (BOD) ဆုံးဖြတ်ချက် တင်ပြပေးပါရန်၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ် (ယာယီ)ကဒ် တင်ပြထားပါသည်။

(၅) (၃၁-၁၂-၂၀၀၉)နေ့တွင် လက်မှတ်ရေးထိုးပြီးသည့် MOU တင်ပြပေးပါရန်၊

Delco နှင့် သဘာဝ အကြားစာချုပ်မူ ထည့်ပေးပါရန်

3 Agency ၏ ပို့ထား သည့် စာ တင်ပြမည်.

(၆) မနသ ပုံစံ(၁). အဆိုပြုချက် ပုံစံ တင်ပြထားပါသည်။ မနသ ပုံစံ(၁)တွင် အောက်ပါအချက်များ ပြင်ဆင်ရန် လိုအပ်ပါသည်။

- အပိုဒ် (၇)တွင် ခွင့်ပြုမတည်ငွေရင်းမှာ ကျပ်(၁၀၀၀)သန်း ရှိပါသည်။ အပိုဒ် (၈)၏ ကုမ္ပဏီရပိုင်ခွင့်များတွင် ကိုယ်ပိုင်ထည့်ဝင်ငွေ US$ (၇.၆၈)သန်း အပါအဝင် ကျပ် (၂၇၄၂.၀၈) သန်း ရှိနေပါသဖြင့် ကုမ္ပဏီအနေဖြင့် ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်ခြင်းဖြင့် သော်လည်းကောင်း၊ ချေးငွေ(ပေးရန်တာဝန်) တိုးမြှင့်ချေးယူခြင်းဖြင့် သော်လည်းကောင်း ဆောင်ရွက်ရမည်ဖြစ်ပါ သည်။
- အပိုဒ် ၈(က)(၃) ရင်းနှီးမြှုပ်နှံမှုတွင် အဆောက်အဦနှင့် မြေတန်ဘိုးဟု သုံးထားရာ B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြစ်သဖြင့် မြေဆိုသည့် စာသားကို ပယ်ဖျက်ပေးပါရန်၊
- အပိုဒ် ၉(ဇ) အဆောက်အအုံ လိုအပ်ချက်ကို ဖော်ပြပေးနိုင်ပါက ဖော်ပြပေးရန်၊
- မနသ ပုံစံ(၁) အပိုဒ် ၈(က)ရင်းနှီးမြှုပ်နှံမှု တွင် ကိုယ်ပိုင်ထည့်ဝင်ငွေ ကျပ်(၂၆၉၆)သန်း နှင့် ချေးငွေ ကျပ်(၁၇၅၀)သန်း ဖြစ်ပြီး နောက်ဆက်တွဲ(၂)တွင် ကိုယ်ပိုင်ထည့်ဝင်ငွေ ကျပ် (၂၁၆၆)သန်း နှင့် ချေးငွေကျပ် (၂၂၈၀)သန်း ဖြစ်၍ ပြန်လည် စိစစ်ပေးပါရန်၊

(၇) Exhibit - II (A) တွင်လည်း ရင်းနှီးမြှုပ်နှံမှု၏ ကျပ်ငွေတွင် ကိုယ်ပိုင်ထည့်ဝင်ငွေနှင့် ချေးငွေ တန်ဘိုး ဖော်ပြချက်များ ပြန်လည်စိစစ်ပေးပါရန်၊(ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ US (၇.၆၈)သန်း (ငွေသား US$ (၀.၈၂)သန်းစက်တန်ဘိုး US$(၆.၈၆)သန်း ကိုယ်ပိုင် ထည့်ဝင်ငွေ အဖြစ် ဖော်ပြထားပါသည်။ ဌာနအမှာစာတွင် စက် ယန္တရားများကို ပြည်ပမှ Deferred Payment Loan Agreement. ကို သီးခြား ချုပ်ဆို ၍ ဝယ်ယူမည်ဖြစ်ကြောင်းနှင့် Natural Energy Wave Co., Ltd. ၏ ကုမ္ပဏီခွဲ ဖြစ်သော Delco Mining Ltd. ၏ သတ္တုတူးဖော်ရေး လုပ်ငန်းမှရရှိသည့် နိုင်ငံခြား သုံးငွေများသုံးစွဲခြင်းဖြင့် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ Deferred Payment ဖြင့် ချေးငွေ ရယူခြင်းကို ခွင့်မပြုပါ။ Delco Mining ၏ FE ကို သုံးစွဲဆောင် ရွက်ခွင့်ဖြင့် ဆောင်ရွက်နိုင်ပါသည်။)

(၈) Exhibit - II (B-2) Draw Back Item အနေဖြင့် သုံးစွဲမည့် ပစ္စည်းစာရင်း တင်ပြထားပါသည်။ မည်သည့်နိုင်ငံနှင့် ကုမ္ပဏီမှ တင်သွင်းမည် ဖြစ်ကြောင်းနှင့် ငှားရမ်း သုံးစွဲမည်ဖြစ်ကြောင်း စာချုပ်တင်ပြရန်၊

(၉) Exhibit - II (B-3) ပြည်ပမှ ဝယ်ယူတင်သွင်းမည့် မော်တော်ယာဥ်စာရင်း တင်ပြထားပါသည်။ အရေအတွက်သာ ဖော်ပြထားပြီး တန်ဘိုးဖော်ပြ ထားခြင်းမရှိပါ။ ရင်းနှီးမြှုပ်နှံမှု တန်ဘိုးတွင် မပါသဖြင့် အမှန်တကယ် လိုအပ်သည့် အခါမှသာ လျှပ်စစ်(၁)ဝန်ကြီးဌာန ထောက်ခံချက်ဖြင့် တင်ပြရမည် ဖြစ်ပါသည်။

(၁၀) လုပ်ငန်းတွင် ပြန်လည်အသုံးပြုခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာတွင် လျော့နည်းခြင်းကို ထုတ်လုပ်သည့် ဓါတ်အားပမာဏ၏ (၅%)ဖြင့် ယခင်လုပ်ငန်း (၂)ခုတွင် ဖော်ပြခဲ့သော်လည်း ယခုလုပ်ငန်း တွင် (၃၀%) ဖော်ပြထားခြင်းအား ရှင်းလင်းချက် တင်ပြပေးပါရန်၊

(၁၁) Exhibit - IV ပြည်တွင်း၊ ပြည်ပ ဝန်ထမ်းစာရင်း တင်ပြထားပါသည်။ ပြည်ပမှ ပညာရှင် (၃)ဦးကို ခန့်ထားမည့် ကာလဖော်ပြပေးပါရန်၊

(၁၂) Exhibit - V ရင်းနှီးမြှုပ်နှံမည့် ဝင်ငွေတန်ဘိုး ဖော်ပြထားပါသည်။ မနသ ပုံစံ ၈(က) ရင်းနှီးမြှုပ်နှံမှု ပုံစံ ဖော်ပြချက်နှင့် တူညီရန် လိုအပ်ပါသည်။

(၁၃) Exhibit - VI (1) တွင် Profit & Loss စာရင်းတွင် တန်ဘိုးလျော့ကို Straight Line Method အသုံးပြုကြောင်း တင်ပြထားပါသည်။(၂၀)နှစ်အတွက် တင်ပြထားပြီး စုစုပေါင်း တန်ဘိုးလျော့စရိတ်မှာ ကျပ်(၃၉၀၂.၄၂)သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု စုစုပေါင်း တန်ဘိုး မှာ ကျပ်(၄၄၉၂.၀၈)သန်းဖြစ်၍ တန်ဘိုးလျော့ လျာထားငွေကို ပြန်လည်စိစစ်ပေးပါရန်၊

(၁၄) Exhibit - VII (1) Cash Flow Statement တွင် ပြည်တွင်းချေးငွေနှင့် အတိုးတွက်ချက်မှု ပြန်စစ်ပေးပါရန်၊ Cash Flow Statement ကို ပူးတွဲပါဇယားပုံစံဖြင့် တင်ပြပေးပါရန်၊

(၁၅) IRR တွက်ချက်မှု ဖော်ပြပေးရန်

(၁၆) Exhibit - VIII တွင် ပြည်တွင်း ချေးငွေ ရယူမှု၊ ပြန်လည်ပေးဆပ်မှု၊ အတိုးတွက်ချက်မှုများ တင်ပြထားပါသည်။ တည်ဆောက်ရေးကာလ(၃)နှစ် အတိုးတွက်ချက်မှုများ ပြန်စစ်ပေးပါရန်နှင့် ဒုတိယနှစ်၏ ချေးငွေ တန်ဘိုး ပြန်စစ်ပေးပါရန်၊

(၁၇) Exhibit - IX တွင် နိုင်ငံတော်နှင့် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် နှိုင်းယှဉ် တင်ပြထားပါသည်။ ပြည်တွင်း ချေးငွေ တန်ဘိုး ပြန်စစ်ပေးပါရန်၊

(၁၈) ဤလိုအပ်ချက်များကို ( - -၂၀၁၀)နေ့တွင် ထုတ်ပေးလိုက်ပါသည်။( - -၂၀၁၀)နေ့ မတိုင်မီ ပြည့်စုံစွာဖြင့် ပြန်လည်တင်ပြရန် ဖြစ်ပါသည်။

| လာရောက်တွေ့ဆုံသူ | | ထုတ်ပေးသူ | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အမည် | နီလာ | အမည် | နီလာမူ |
| ရာထူး | | ရာထူး | |

မှတ်ချက်။ ။ လာရောက်တွေ့ဆုံသူသည် ကုမ္ပဏီမှ တာဝန်ရှိသူ (သို့မဟုတ်) ကိုယ်စားလာရောက်ပါက ကုမ္ပဏီ၏ တာဝန်ရှိသူ၏ ကိုယ်စားလှယ် လွှဲစာပါရှိရပါမည်။

## အဆိုပြုချက်အပေါ် ကနဦး စိစစ်တွေ့ရှိချက်အရ လိုအပ်ချက်များ

| | |
|---|---|
| ကုမ္ပဏီအမည် | သဘာဝ စွမ်းအင်လိုင်းကုမ္ပဏီ လီမိတက် |
| ဆောင်ရွက်မည့်လုပ်ငန်း | BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| အဆိုပြုလွှာတင်ပြနေ့ | ၂၃-၉-၂၀၁၀ |

စိစစ်တွေ့ရှိချက်အရ အောက်ပါလိုအပ်ချက်များတွေ့ရှိ ရပါ၍ ပြင်ဆင်ပေးပါရန် အကြောင်းကြားပါသည်။

(၁) ရှေ့နေချုပ်ရုံးနှင့် စီမံ/စီးပွားဝန်ကြီးဌာနများ၏ သဘောထား ပြန်ကြားချက် အရ နိုင်ငံပိုင်စီးပွားရေး လုပ်ငန်းများ ဥပဒေ ပုဒ်မ ၃ နှင့် ဥပဒေ ပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့်ထုတ်ပြန်သော ခွင့်ပြုမိန့် တင်ပြပေးပါရန်၊

(၂) ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၁၀) (၃-၂-၂၀၁၀) အစည်းအဝေးမှ ရွှေစွမ်းအင်ကုမ္ပဏီ လီမိတက်၏ သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်း နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက် (Gold Energy Co., Ltd.) မှ BOT စနစ် ဖြင့် သောက်ရေခပ်(၂) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလ အတွက် Exemption နှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။

(ခ) Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည် တင်ပြရန်၊

(ဂ) သို့ပါ၍ Exemption ကိစ္စများအား အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ တင်ပြ ခွင့်ပြုချက် ရယူပေးပါရန်၊

(၃) ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင်မိတ္တူ တင်ပြပေးပါရန်။

(၄) ရင်းနှီးမြှုပ်နှံမှုအတွက် ညီနောင်ကုမ္ပဏီ၏ နိုင်ငံခြားငွေ တင်ပြထားရာ (BOD) ဆုံးဖြတ်ချက် တင်ပြပေးပါရန်၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ် (ယာယီ)ကဒ် တင်ပြထားပါသည်။

(၅) (၃၁-၁၂-၂၀၀၉)နေ့တွင် လက်မှတ်ရေးထိုးပြီးသည့် MOU တင်ပြပေးပါရန်၊

(၆) မနသ ပုံစံ(၁). အဆိုပြုချက် ပုံစံ တင်ပြထားပါသည်။ မနသ ပုံစံ(၁)တွင် အောက်ပါအချက်များ ပြင်ဆင်ရန် လိုအပ်ပါသည်။

- အပိုဒ် (၇)တွင် ခွင့်ပြုမတည်ငွေရင်းမှာ ကျပ်(၁၀၀၀)သန်း ရှိပါသည်။ အပိုဒ် (၈)၏ ကုမ္ပဏီရပိုင်ခွင့်များတွင် ကိုယ်ပိုင်ထည့်ဝင်ငွေ US$ (၇.၆၈)သန်း အပါအဝင် ကျပ်(၂၇၄၂.၀၈) သန်း ရှိနေပါသဖြင့် ကုမ္ပဏီအနေဖြင့် ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်ခြင်းဖြင့် သော်လည်းကောင်း၊ ချေးငွေ(ပေးရန်တာဝန်) တိုးမြှင့်ချေးယူခြင်းဖြင့် သော်လည်းကောင်း ဆောင်ရွက်ရမည်ဖြစ်ပါ သည်။
- အပိုဒ် ၈(က)(၃) ရင်းနှီးမြှုပ်နှံမှုတွင် အဆောက်အဦနှင့် မြေတန်ဘိုးဟု သုံးထားရာ B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြစ်သဖြင့် မြေဆိုသည့် စာသားကို ပယ်ဖျက်ပေးပါရန်၊
- အပိုဒ် ၉(ဇ) အဆောက်အအုံ လိုအပ်ချက်ကို ဖော်ပြပေးနိုင်ပါက ဖော်ပြပေးရန်၊
- မနသ ပုံစံ(၁) အပိုဒ် ၈(က)ရင်းနှီးမြှုပ်နှံမှု တွင် ကိုယ်ပိုင်ထည့်ဝင်ငွေ ကျပ်(၂၆၉၆)သန်း နှင့် ချေးငွေ ကျပ်(၁၇၅၀)သန်း ဖြစ်ပြီး နောက်ဆက်တွဲ(၂)တွင် ကိုယ်ပိုင်ထည့်ဝင်ငွေ ကျပ်(၂၁၆၆)သန်း နှင့် ချေးငွေကျပ် (၂၂၈၀)သန်း ဖြစ်၍ ပြန်လည် စိစစ်ပေးပါရန်၊

(၇) Exhibit - II (A) တွင်လည်း ရင်းနှီးမြှုပ်နှံမှု၏ ကျပ်ငွေတွင် ကိုယ်ပိုင်ထည့်ဝင်ငွေနှင့် ချေးငွေ တန်ဘိုး ဖော်ပြချက်များ ပြန်လည်စိစစ်ပေးပါရန်၊(ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ US (၇.၆၈)သန်း (ငွေသား US$ (၀.၈၂)သန်းစက်တန်ဘိုး US$(၆.၈၆)သန်း ကိုယ်ပိုင် ထည့်ဝင်ငွေအဖြစ် ဖော်ပြထားပါသည်။ ဌာနအမှာစာတွင် စက် ယန္တရားများကို ပြည်ပမှ Deferred Payment Loan Agreement. ကို သီးခြား ချုပ်ဆို ၍ ဝယ်ယူမည်ဖြစ်ကြောင်းနှင့် Natural Energy Wave Co., Ltd. ၏ ကုမ္ပဏီခွဲ ဖြစ်သော Delco Mining Ltd. ၏ သတ္တုတူးဖော်ရေး လုပ်ငန်းမှရရှိသည့် နိုင်ငံခြား သုံးငွေများသုံးစွဲခြင်းဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ Deferred Payment ဖြင့် ချေးငွေ ရယူခြင်းကို ခွင့်မပြုပါ။ Delco Mining ၏ FE ကို သုံးစွဲဆောင် ရွက်ခွင့်ဖြင့် ဆောင်ရွက်နိုင်ပါသည်။)

(၈) Exhibit - II (B-2) Draw Back Item အနေဖြင့် သုံးစွဲမည့် ပစ္စည်းစာရင်း တင်ပြထားပါသည်။ မည်သည့်နိုင်ငံနှင့် ကုမ္ပဏီမှ တင်သွင်းမည် ဖြစ်ကြောင်းနှင့် ငှားရမ်း သုံးစွဲမည်ဖြစ်ကြောင်း စာချုပ်တင်ပြရန်၊

(၉) Exhibit - II (B-3) ပြည်ပမှ ဝယ်ယူတင်သွင်းမည့် မော်တော်ယာဉ်စာရင်း တင်ပြထားပါသည်။ အရေအတွက်သာ ဖော်ပြထားပြီး တန်ဘိုးဖော်ပြထားခြင်းမရှိပါ။ ရင်းနှီးမြှုပ်နှံမှု တန်ဘိုးတွင် မပါသဖြင့် အမှန်တကယ် လိုအပ်သည့် အခါမှသာ လျှပ်စစ်(၁)ဝန်ကြီးဌာန ထောက်ခံချက်ဖြင့် တင်ပြရမည် ဖြစ်ပါသည်။

(၁၀) လုပ်ငန်းတွင် ပြန်လည်အသုံးပြုခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာတွင် လျော့နည်းခြင်းကို ထုတ်လုပ်သည့် ဓါတ်အားပမာဏ၏ (၅%)ဖြင့် ယခင်လုပ်ငန်း (၂)ခုတွင် ဖော်ပြခဲ့သော်လည်း ယခုလုပ်ငန်း တွင် (၃၀%) ဖော်ပြထားခြင်းအား ရှင်းလင်းချက် တင်ပြပေးပါရန်၊

(၁၁) Exhibit - IV ပြည်တွင်း၊ ပြည်ပ ဝန်ထမ်းစာရင်း တင်ပြထားပါသည်။ ပြည်ပမှ ပညာရှင် (၃)ဦး ကို ခန့်ထားမည့် ကာလဖော်ပြပေးပါရန်၊

(၁၂) Exhibit - V ရင်းနှီးမြှုပ်နှံမည့် ဝင်ငွေတန်ဘိုး ဖော်ပြထားပါသည်။ မနသ ပုံစံ ၈(က) ရင်းနှီးမြှုပ်နှံမှု ပုံစံ ဖော်ပြချက်နှင့် တူညီရန် လိုအပ်ပါသည်။

(၁၃) Exhibit - VI (1) တွင် Profit & Loss စာရင်းတွင် တန်ဘိုးလျော့ကို Straight Line Method အသုံးပြုကြောင်း တင်ပြထားပါသည်။(၂၀)နှစ်အတွက် တင်ပြထားပြီး စုစုပေါင်း တန်ဘိုးလျော့ စရိတ်မှာ ကျပ်(၃၉၁၂.၄၂)သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု စုစုပေါင်း တန်ဘိုး မှာ ကျပ် (၄၄၉၂.၀၈)သန်းဖြစ်၍ တန်ဘိုးလျော့ လျာထားငွေကို ပြန်လည်စိစစ်ပေးပါရန်၊

(၁၄) Exhibit - VII (1) Cash Flow Statement တွင် ပြည်တွင်းချေးငွေနှင့် အတိုးတွက်ချက်မှု ပြန်စစ်ပေးပါရန်၊ Cash Flow Statement ကို ပူးတွဲပါဇယားပုံစံဖြင့် တင်ပြပေးပါရန်၊

(၁၅) IRR တွက်ချက်မှု ဖော်ပြပေးရန်

(၁၆) Exhibit - VIII တွင် ပြည်တွင်း ချေးငွေ ရယူမှု၊ ပြန်လည်ပေးဆပ်မှု၊ အတိုးတွက်ချက်မှုများ တင်ပြထားပါသည်။ တည်ဆောက်ရေးကာလ(၃)နှစ် အတိုးတွက်ချက်မှုများ ပြန်စစ်ပေးပါရန် နှင့် ဒုတိယနှစ်၏ ချေးငွေ တန်ဘိုး ပြန်စစ်ပေးပါရန်၊

(၁၇) Exhibit - IX တွင် နိုင်ငံတော်နှင့် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် နှိုင်းယှဥ် တင်ပြထားပါသည်။ ပြည်တွင်း ချေးငွေ တန်ဘိုး ပြန်စစ်ပေးပါရန်၊

(၁၈) ဤလိုအပ်ချက်များကို (   -   -၂၀၁၀)နေ့တွင် ထုတ်ပေးလိုက်ပါသည်။(   -   -၂၀၁၀)နေ့ မတိုင်မီ ပြည့်စုံစွာဖြင့် ပြန်လည်တင်ပြရန် ဖြစ်ပါသည်။

| လာရောက်တွေ့ဆုံသူ | | ထုတ်ပေးသူ | |
|---|---|---|---|
| လက်မှတ် | ------------------------------- | လက်မှတ် | ---------------------------- |
| အမည် | ------------------------------- | အမည် | ---------------------------- |
| ရာထူး | ------------------------------- | ရာထူး | ---------------------------- |

မှတ်ချက်။ ။ လာရောက်တွေ့ဆုံသူသည် ကုမ္ပဏီမှ တာဝန်ရှိသူ (သို့မဟုတ်) ကိုယ်စားလာရောက်ပါက ကုမ္ပဏီ၏ တာဝန်ရှိသူ၏ ကိုယ်စားလှယ် လွှဲစာပါရှိရပါမည်။